



# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

# ခွင့် ပြု မိန့်

ခွင့်ပြုမိန့် အမှတ်၊ မနသ - ......၇၁၆............ / ၂၀၀၉ ။ ၂၀၀၉ ခုနှစ်၊ နိုဝင်ဘာ လ ၂၆ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏ အမည် ........ ဦးကျော်စိုးလွင်

(ခ) အဘအမည် ........ ဦးကြည်လွင်

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် ........ ၉ /မရတ (နိုင်) ၀၅၉၇၈၄

(ဃ) နေရပ်လိပ်စာ ........ အမှတ် (၇/ခ)၊ ကန်ရိပ်သာလမ်း၊ (၁၀) ရပ်ကွက်၊မရမ်းကုန်းမြို့နယ်၊ ရန်ကုန်မြို့။

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း ........ မြတ်နိုးသူဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် ( Myat Noe Thu Construction Co., Ltd.)

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား ........ BOT စနစ်ဖြင့် လမ်းပြုပြင်ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခ ကောက်ခံခြင်းလုပ်ငန်း

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ (များ) ........ မိတ္ထီလာ–ကျောက်ပန်းတောင်း–ညောင်ဦး–ပုဂံ လမ်းအပိုင်း (၉၃မိုင်၊ဖာလုံ)

(ဇ) မတည်ငွေရင်းပမာဏ (ကျပ်) ........ ၁၂၉၉၁.၂၁(သန်း) (အမေရိကန်ဒေါ်လာ ၂.၀၈သန်းအပါအဝင်စုစုပေါင်း ကျပ်သန်းတစ်သောင်း၊နှစ်ထောင်၊ကိုးရာ၊ကိုးဆယ့်တစ်နှင့်နှစ်သိမ်း၊တစ်သောင်း)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

အမိန့်ကြော်ငြာစာအမှတ်၊ ၂၃ /၂၀၀၉ (မနသ)

နေပြည်တော်၊ ၁၃၇၁ ခုနှစ်၊ နတ်တော်လဆန်း ၁၀ ရက်

(၂၀၀၉ ခုနှစ်၊ နိုဝင်ဘာ လ ၂၆ ရက်)

၁။ မြန်မာကုမ္ပဏီ ဖြစ်သော မြတ်နိုးသူ ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Myat Noe Thu Construction Co., Ltd.) မှ ဆောက်လုပ်ရေး ဝန်ကြီးဌာန၊ ပြည်သူ့ ဆောက်လုပ်ရေး လုပ်ငန်းပိုင် မိတ္ထီလာ - ကျောက်ပန်းတောင်း - ညောင်ဦး - ပုဂံ လမ်းအပိုင်း [ မိတ္ထီလာ-ကျောက်ပန်းတောင်း အပိုင်း ၆၀ မိုင်၊ ၂ ဖာလုံ၊ ကျောက်ပန်းတောင်း- ညောင်ဦး-ပုဂံ အပိုင်း ၃၃ မိုင်၊ ၄ ဖာလုံ၊ စုစုပေါင်း ၉၃ မိုင်၊ ၆ ဖာလုံ ]အား BOT စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်းတံတား အသုံးပြုခ ကောက်ခံခြင်းလုပ်ငန်း ကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ နှင့် အညီ ဆောင်ရွက်ခွင့် အဆိုပြုချက် အား (၂၂-၉-၂၀၀၉)နေ့တွင် ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီး မြှုပ်နှံမှု ကော်မရှင်၏ (၃၄/၂၀၀၉) အစည်းအဝေး၌ တင်ပြခဲ့ပါသည်။ ကော်မရှင် မှ မူအားဖြင့် သဘော တူညီခဲ့ပြီး (၇-၁၀-၂၀၀၉ ) နေ့တွင် ကျင်းပသော ကုန်သွယ်မှု မူဝါဒ ကောင်စီ ၏ (၃၄/၂၀၀၉) အစည်းအဝေး သို့ ဆက်လက် တင်ပြခဲ့ပါသည်။ အဆိုပါ အစည်းအဝေး သဘောတူ ညီချက်အရ (၁၂-၁၁-၂၀၀၉) နေ့တွင် ကျင်းပသော ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့ ၏ (၄၃/၂၀၀၉) အစည်းအဝေးသို့ တင်ပြခဲ့ရာ သဘောတူကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက် အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသား များ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၅)၊ ပုဒ်မ ၁၀ အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် မြတ်နိုးသူ ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Myat Noe Thu Construction Co., Ltd.) အား မိတ္ထီလာ - ကျောက်ပန်းတောင်း - ညောင်ဦး - ပုဂံ လမ်းအပိုင်း (၉၃ မိုင်၊ ၆ ဖာလုံ ) အား BOT စနစ်ဖြင့် ပြုပြင် ဖောက်လုပ်၍ လမ်းတံတား အသုံးပြုခ ကောက်ခံ ခြင်း လုပ်ငန်း ဆောင်ရွက်နိုင်ရန် အတွက် ခွင့်ပြုမိန့်အမှတ်၊ မနသ- ၇၁၆/၂၀၀၉ ကို ထုတ်ပေး လိုက်သည်။

၂။ မြတ်နိုးသူ ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Myat Noe Thu Construction Co., Ltd.) အနေဖြင့် ဤခွင့်ပြုမိန့် အရ ဝန်ဆောင်မှု လုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသား များရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂ အရ ဝန်ဆောင်မှုလုပ်ငန်း စီးပွားဖြစ် စတင်သော နှစ် အပါအဝင် တစ်ဆက်တည်း (၃)နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်ပြုသည်။ ဥပဒေပုဒ်မ ၁၃ မှ လုပ်ငန်း နှင့် သက်ဆိုင်သည့် အခွန်ဆိုင်ရာ ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များ ခံစားလိုပါက ဤကော်မရှင် သို့ လျှောက်ထားနိုင်သည်။

၃။ မြတ်နိုးသူ ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Myat Noe Thu Construction Co., Ltd.) သည် ဤခွင့်ပြုမိန့် အရ ဝန်ဆောင်မှု လုပ်ငန်း ဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် ဝန်ဆောင်မှု ရည်မှန်းချက်ကို အနိမ့်ဆုံး ရည်မှန်းချက် အဖြစ် ထားရှိဆောင်ရွက် အကောင်အထည်ဖော်ရမည်။

၄။ မြတ်နိုးသူ ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Myat Noe Thu Construction Co., Ltd.) သည် ဤအဆိုပြု လုပ်ငန်း၏ စာရင်းများကို သီးခြား ပြုစုထားရှိရမည်။

၅။ မြတ်နိုးသူ ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Myat Noe Thu Construction Co., Ltd.) သည် မိတ္ထီလာ - ကျောက်ပန်းတောင်း - ညောင်ဦး - ပုဂံ လမ်းအပိုင်း အား BOT စနစ်ဖြင့် ပြုပြင် ဖောက်လုပ် ရာတွင် ဆောက်လုပ်ရေး ဝန်ကြီးဌာန၊ ပြည်သူ့ဆောက်လုပ်ရေး လုပ်ငန်း နှင့် ချုပ်ဆိုမည့် BOT ပဋိညာဉ် စာချုပ်ပါ သတ်မှတ်ချက် စည်းမျဉ်း စည်းကမ်းများအတိုင်း လိုက်နာ ဆောင်ရွက်ရ မည်။

၆။ အဆိုပြုလုပ်ငန်း ဆောင်ရွက်နိုင်ရန် အတွက် ဆောက်လုပ်ရေး ဝန်ကြီးဌာန၊ ပြည်သူ့ ဆောက်လုပ်ရေး လုပ်ငန်းနှင့် မြတ်နိုးသူ ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Myat Noe Thu Construction Co., Ltd.) တို့ ချုပ်ဆိုမည့် မိတ္ထီလာ - ကျောက်ပန်းတောင်း - ညောင်ဦး - ပုဂံ လမ်းအပိုင်း အား BOT စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လုပ်ငန်း လုပ်ကိုင်ရေး ပဋိညာဉ်စာချုပ် လက်မှတ်ရေးထိုးပြီးသည့် အခါ ယင်းသဘောတူ စာချုပ် မိတ္တူ (၅)စောင် ကို ဤကော်မရှင် သို့ မပျက်မကွက် ပေးပို့တင်ပြရမည်။

၇။ မြတ်နိုးသူ ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Myat Noe Thu Construction Co., Ltd.)၏ မိတ္ထီလာ - ကျောက်ပန်းတောင်း - ညောင်ဦး - ပုဂံ လမ်းအပိုင်း အား BOT စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်းတံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း သက်တမ်းမှာ နှစ်(၄၀) ဖြစ်သည်။ လမ်းဖောက်လုပ်သည့် လုပ်ငန်းကာလ (၃)နှစ် အထိ ဆောင်ရွက် ပြီးစီးသည့် နေ့ သို့မဟုတ် လုပ်ငန်း အပြီးသတ် ဆောင်ရွက်ပြီးစီးမှု လက်မှတ် ထုတ်ပေးသည့်နေ့ ထိုနှစ်ရပ် အနက် စောရာ နေ့ရက်ကာလမှ စတင် သတ်မှတ်ရမည် ။

၈။ လမ်း၊ တံတား အသုံးပြုခ ရငွေ အပေါ် ခွင့်ပြုကာလ အပိုင်းအခြား အလိုက် အောက်ပါ သတ်မှတ်ထားသည့် ရာခိုင်နှုန်းများ အတိုင်း နိုင်ငံတော်သို့ ပေးသွင်းရမည်။

| | | |
|---|---|---|
| (က) | ပထမ (၃)နှစ် အတွက် | - ကင်းလွတ်ခွင့်ကာလ |
| (ခ) | (၄)နှစ်မြောက်မှ(၁၃)နှစ်မြောက်အထိ (၁၀)နှစ် | - ၅% ပေးသွင်းရန် |
| (ဂ) | (၁၄)နှစ်မြောက်မှ(၂၃)နှစ်မြောက်အထိ(၁၀)နှစ် | - ၁၀% ပေးသွင်းရန် |

(ဃ) (၂၄)နှစ်မြောက်မှ(၃၃)နှစ်မြောက်အထိ(၁၀)နှစ် - ၁၅% ပေးသွင်းရန်

(င) (၃၄)နှစ်မြောက်မှ(၄၀)နှစ်မြောက်အထိ(၇)နှစ် - ၂၀% ပေးသွင်းရန်

၉။ လုပ်ငန်း လုပ်ကိုင် ခွင့်ပြုသည့်ကာလများ ပြီးဆုံးပါက အဆိုပါ လမ်းနှင့် တံတား များ၊ ဂိတ်များနှင့် အဆောက်အဦများကို ဆောက်လုပ် ပြီးစီးချိန်က ရှိနေသော ကောင်းမွန် သည့် အနေအထားအတိုင်း ပြည်သူ့ဆောက်လုပ်ရေး လုပ်ငန်းသို့ အဖိုးစားနား တစ်စုံတစ်ရာ မပါရှိဘဲ လွှဲပြောင်းပေးရမည်။

၁၀။ မြတ်နိုးသူ ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Myat Noe Thu Construction Co., Ltd.)မှ အဆိုပြုလုပ်ငန်းဆောင်ရွက်ရန် အတွက် ပြည်တွင်းအလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမားဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာနနှင့် ညှိနှိုင်းဆောင်ရွက်ရမည်။

၁၁။ မြတ်နိုးသူ ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Myat Noe Thu Construction Co., Ltd.) သည် ဤခွင့်ပြုမိန့် အရ ဝန်ဆောင်မှု လုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေး အန္တရာယ် စသည်များ၊ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင်ညစ်ညမ်းမှု ထိန်းသိမ်း ကာကွယ်ရေး အစီအမံများကို ဝန်ခံကတိ ပြုထားသည့်အတိုင်း စနစ်တကျ ထားရှိ ဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားရှိမှု အခြေအနေ ကို ဤ ကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၂။ မြတ်နိုးသူ ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Myat Noe Thu Construction Co., Ltd.)သည် ပူးတွဲပါ ကနဦး လုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤ ခွင့်ပြုမိန့် ရရှိပြီး (သုံး)လ အတွင်း ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။ ထို့ပြင် လုပ်ငန်း အကောင်အထည် ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံဇယားများဖြင့် (၆)လ တစ်ကြိမ် ( ဧပြီ / အောက်တိုဘာ လများ) မပျက်မကွက် ပုံမှန်ပေးပို့အစီရင်ခံရမည်။

၁၃။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့် လမ်းအရှည်မိုင် နှင့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာနှင့် တယ်လီဖုန်းနံပါတ်) တို့ ပြောင်းလဲမှုရှိတိုင်း ဤကော်မရှင်သို့ မပျက်မကွက် တင်ပြ၍ အတည်ပြု ခွင့်ပြုချက်ကို ရယူရမည်။

၁၄။ မြတ်နိုးသူ ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Myat Noe Thu Construction Co., Ltd.)သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် နှင့် သက်ဆိုင်ရာဝန်ကြီး ဌာနများမှ ချမှတ်ထားသော တည်ဆဲ စည်းမျဉ်း စည်းကမ်း သတ်မှတ်ချက်များကို လိုက်နာမှု မရှိကြောင်း စစ်ဆေး တွေ့ရှိပါက ဤခွင့်ပြုမိန့်ကို ပြန်လည် ရုပ်သိမ်းသည့်အထိ အရေးယူခြင်းခံရမည်။

၁၅။ မြတ်နိုးသူ ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Myat Noe Thu Construction Co., Ltd.) သည် အဆိုပြုလမ်း အပိုင်း တရားဝင် ဖွင့်လှစ်သည့် နေ့ရက် နှင့် စီးပွားဖြစ် စတင် ဆောင်ရွက် သည့် နေ့ရက် တို့ကို ဤကော်မရှင် သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၆။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက် ရမည် ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်း မရှိစေရ။ အကယ်၍ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း သက်ဆိုင်ရာ က စစ်ဆေးတွေ့ရှိလျှင် လုပ်ငန်း ပိတ်သိမ်းနိုင်ရေး အတွက် သက်ဆိုင်ရာ အစိုးရဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်းဆောင်ရွက်မည့်အပြင် လုပ်ငန်းအဆိုပြုသူ သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၅(င) အရ နောင်တွင် မည်သည့် ခွင့်ပြုမိန့်မျှ ထုတ်ပေးမည် မဟုတ်သော နာမည်ပျက် စာရင်း၌ ထည့်သွင်းခြင်းခံရမည်။

(ဗိုလ်မှူးချုပ်မောင်မောင်သိမ်း)

ဥက္ကဋ္ဌ

စာအမှတ်၊ရကေ- ၆(က) /မ-၁၀၁၆/၂၀၀၉( ၂၀ ၀ ၆ ၄ )
ရက်စွဲ၊ ၂၀၀၉ ခုနှစ်၊ နိုဝင်ဘာ လ ၂၆ ရက်။

ဖြန့်ဝေခြင်း-

၁။ နိုင်ငံတော် အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ ဥက္ကဋ္ဌရုံး။
၂။ နိုင်ငံတော် အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ ရုံး။
၃။ အစိုးရ အဖွဲ့ရုံး။
၄။ မန္တလေးတိုင်း အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီရုံး ၊မန္တလေးမြို့။
၅။ စာရင်းစစ်ချုပ်ရုံး။
၆။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်အဖွဲ့ဝင်များ။
၇။ အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန။
၈။ အလုပ်သမား ဝန်ကြီးဌာန။
၉။ စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။

၁၀။ ဆက်သွယ်ရေး၊ စာတိုက်နှင့် ကြေးနန်း ဝန်ကြီးဌာန။

၁၁။ ဆောက်လုပ်ရေးဝန်ကြီးဌာန။

၁၂။ ဘဏ္ဍာရေးနှင့် အခွန် ဝန်ကြီးဌာန။

၁၃။ အမှတ်(၂) လျှပ်စစ် စွမ်းအား ဝန်ကြီးဌာန။

၁၄။ ပြည်ထဲရေးဝန်ကြီးဌာန။

၁၅။ ဥက္ကဋ္ဌ၊နိုင်ငံခြားမတည်ငွေရင်းတန်ဖိုးသတ်မှတ်ရေးအဖွဲ့။(ပို့ဆောင်ရေး ဝန်ကြီးဌာန)

၁၆။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်။

၁၇။ ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန။

၁၈။ ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန။

၁၉။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန။

၂၀။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း။

၂၁။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန။

၂၂။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များ ဦးစီးဌာန။

၂၃။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း။

၂၄။ ဦးဆောင်ညွှန်ကြားရေးမှူး၊ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း။

၂၅။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း။

၂၆။ အုပ်ချုပ်မှုဒါရိုက်တာ၊ မြတ်နိုးသူ ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Myat Noe Thu Construction Co., Ltd.)

ရုံးတွင်းစာအကျဉ်းချုပ်
သို့မဟုတ် စာကြမ်းရေးရန်အတွက်

ရက်စွဲ၊ ၂၀၀၉ ခုနှစ်၊ နိုဝင်ဘာ လ ၂၃ ရက်၊

M-2067
24/11

အကြောင်းအရာ။ ။ မြတ်နိုးသူ ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Myat Noe Thu Construction Co., Ltd.) မှ မိတ္ထီလာ - ကျောက်ပန်းတောင်း - ညောင်ဦး-ပုဂံ လမ်းအပိုင်း ( ၉၃ မိုင်၊ ၆ ဖာလုံ ] အား BOT စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်းတံတားအသုံးပြုခ ကောက်ခံခြင်းလုပ်ငန်း ဆောင်ရွက်ရန် အဆိုပြုတင်ပြ ခြင်းကိစ္စ။

၁။ မြန်မာကုမ္ပဏီ ဖြစ်သော မြတ်နိုးသူ ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Myat Noe Thu Construction Co., Ltd.) မှ ဆောက်လုပ်ရေး ဝန်ကြီးဌာန၊ ပြည်သူ့ ဆောက်လုပ်ရေး လုပ်ငန်းပိုင် မိတ္ထီလာ - ကျောက်ပန်းတောင်း - ညောင်ဦး - ပုဂံ လမ်းအပိုင်း [ မိတ္ထီလာ-ကျောက်ပန်းတောင်း အပိုင်း ၆၀ မိုင်၊ ၂ ဖာလုံ၊ ကျောက်ပန်းတောင်း- ညောင်ဦး-ပုဂံ အပိုင်း ၃၃ မိုင်၊ ၄ ဖာလုံ၊ စုစုပေါင်း ၉၃ မိုင် ၊ ၆ ဖာလုံ ]အား BOT စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်းတံတား အသုံးပြုခ ကောက်ခံခြင်းလုပ်ငန်း ကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ နှင့် အညီ ဆောင်ရွက်ခွင့် အဆိုပြုချက် အား (၂၂-၉-၂၀၀၉)နေ့တွင် ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၃၄/၂၀၀၉) အစည်းအဝေး၌ တင်ပြခဲ့ ပါသည်။

၂။ ကော်မရှင် မှ မူအားဖြင့် သဘောတူ ညီခဲ့ပြီး (၇-၁၀-၂၀၀၉ ) နေ့တွင် ကျင်းပသော ကုန်သွယ်မှု မူဝါဒ ကောင်စီ ၏ (၃၄/၂၀၀၉) အစည်းအဝေး သို့ ဆက်လက် တင်ပြခဲ့ပါသည်။ အဆိုပါ အစည်းအဝေး သဘောတူ ညီချက်အရ (၁၂-၁၁-၂၀၀၉) နေ့တွင် ကျင်းပသော ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့၏ (၄၃/၂၀၀၉) အစည်းအဝေးသို့ တင်ပြခဲ့ရာ သဘောတူကြောင်း ဆုံးဖြတ်ခဲ့ပါသည်။

၃။ သို့ဖြစ်ပါ၍ မြန်မာနိုင်ငံသားများ ရင်းနှီး မြှုပ်နှံမှု ဥပဒေ အခန်း(၅)၊ ပုဒ်မ ၁၀ နှင့် ယင်းဥပဒေ ဆိုင်ရာ လုပ်ထုံးလုပ်နည်းများ အခန်း(၄) ၊ အပိုဒ် ၁၂ တို့နှင့်အညီ မြတ်နိုးသူ ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Myat Noe Thu Construction Co., Ltd.) အား မိတ္ထီလာ - ကျောက်ပန်းတောင်း - ညောင်ဦး - ပုဂံ လမ်းအပိုင်း (၉၃ မိုင်၊ ၆ ဖာလုံ )ကို

ရုံးတွင်းစာအကျဉ်းချုပ်
သို့မဟုတ် စာကြမ်းရေးရန်အတွက်

BOT စနစ် ဖြင့် ပြုပြင် ဖောက်လုပ်၍ လမ်း တံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း ဆောင်ရွက်ရန် ထုတ်ပေးမည့် ခွင့်ပြုမိန့် နှင့် အမိန့်ကြော်ငြာစာ တွင် လက်မှတ်ရေးထိုး ပေးနိုင်ပါရန် ပြုစု တင်ပြ အပ်ပါသည်။

(ဗိုလ်မှူးကြီးသူရိန်ဇော်)
အတွင်းရေးမှူး

ဦးထက္ကဌ

# ပြည်ထောင်စုမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

စာအမှတ်၊ ရက- ၆(ခ)/မ-လမ်း/၂၀၀၉(၁၉၈၉၂ )၊
ရက်စွဲ၊ ၂၀၀၉ ခုနှစ်၊ နိုဝင်ဘာလ ၅ ရက်။

## ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့သို့ တင်ပြသည့်
## အမှာစာ

အကြောင်းအရာ။ ။ BOT စနစ်ဖြင့် လမ်းများ ပြုပြင်ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း ကို ရင်းနှီးမြှုပ်နှံမှု ဥပဒေ နှင့် အညီ ဆောင်ရွက်ရန် အတွက် အဆိုပြုချက်(၄)ခု တင်ပြခြင်းကိစ္စ။

၁။ အောက်ပါ လမ်းအပိုင်း(၄)ပိုင်းတို့အား BOT စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခကောက်ခံခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ကော်မရှင်ခွင့်ပြုမိန့်ရရှိရေးအတွက် ဆောက်လုပ်ရေးဝန်ကြီးဌာနမှတစ်ဆင့် အဆိုပြုချက်များ တင်ပြခဲ့ပါသည်။

| စဉ် | လုပ်ငန်းတည်နေရာ | လမ်းအရှည် မိုင် | စုစုပေါင်း ရင်းနှီးမြှုပ်နှံမှု | ဆောင်ရွက်သည့် ကုမ္ပဏီ |
|---|---|---|---|---|
| ၁။ | ကျိုက်ထို-သထုံ-မော်လမြိုင် | ၇၁ မိုင်၊ ၆ ဖာလုံ | ကျပ် ၁၉၇၀၀.၈၉ သန်း (US$ ၇.၉၉၅ သန်း အပါအဝင်) | ရွှေသံလွင်အဝေးပြေး လမ်းမကြီး ကုမ္ပဏီ လီမိတက် |
| ၂။ | သထုံ - မြိုင်ကလေး | ၂၆ မိုင်၊ ၂ ဖာလုံ | ကျပ် ၆၈၂၃.၇၇ သန်း (US$ ၃.၀၇၅ သန်း အပါအဝင်) | ရွှေသံလွင်အဝေးပြေး လမ်းမကြီး ကုမ္ပဏီ လီမိတက် |
| ၃။ | ချောင်းဦး- ပခုက္ကူ | ၃၈ မိုင်၊ ၁ ဖာလုံ | ကျပ် ၁၃၂၀၀.၀၀ သန်း | ထွန်းညီလူဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် |
| ၄။ | မိတ္ထီလာ - ကျောက်ပန်းတောင်း -ညောင်ဦး - ပုဂံ | ၉၃ မိုင်၊ ၆ ဖာလုံ | ကျပ် ၁၂၉၉၁.၂၁ သန်း (US$ ၂.၀၈ သန်း အပါအဝင်) | မြတ်နိုးသူဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် |

# ပြည်ထောင်စုမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

စာအမှတ်၊ ရက- ၆(ခ)/မ- လမ်း/ ၂၀၀၉(၃၉၅၅၈)၊
ရက်စွဲ၊ ၂၀၀၉ ခုနှစ်၊ အောက်တိုဘာလ ၂၉ ရက်။

## ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့သို့ တင်ပြသည့်
## အမှာစာ

အကြောင်းအရာ။ ။ BOT စနစ်ဖြင့် လမ်းများ ပြုပြင်ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း ကို ရင်းနှီးမြှုပ်နှံမှု ဥပဒေ နှင့် အညီ ဆောင်ရွက်ရန် အတွက် အဆိုပြုချက်(၄)ခု တင်ပြခြင်းကိစ္စ။

၁။ အောက်ပါ လမ်းအပိုင်း(၄)ပိုင်းတို့အား BOT စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခကောက်ခံခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ကော်မရှင် ခွင့်ပြုမိန့်ရရှိရေးအတွက် ဆောက်လုပ်ရေးဝန်ကြီးဌာနမှတစ်ဆင့် အဆိုပြုချက်များ တင်ပြခဲ့ပါသည်။

| စဉ် | လုပ်ငန်းတည်နေရာ | လမ်းအရှည် မိုင် | စုစုပေါင်း ရင်းနှီးမြှုပ်နှံမှု | ဆောင်ရွက်သည့် ကုမ္ပဏီ |
|---|---|---|---|---|
| ၁။ | ကျိုက်ထို-သထုံ-မော်လမြိုင် | ၇၁ မိုင်၊ ၆ ဖာလုံ | ကျပ် ၁၉၇၀၀.၈၉ သန်း (US$ ၇.၉၉၅ သန်း အပါအဝင်) | ရွှေသံလွင်အဝေးပြေး လမ်းမကြီး ကုမ္ပဏီ လီမိတက် |
| ၂။ | သထုံ - မြိုင်ကလေး | ၂၆ မိုင်၊ ၂ ဖာလုံ | ကျပ် ၆၈၂၃.၇၇ သန်း (US$ ၃.၀၇၅ သန်း အပါအဝင်) | ရွှေသံလွင်အဝေးပြေး လမ်းမကြီး ကုမ္ပဏီ လီမိတက် |
| ၃။ | ချောင်းဦး- ပခုက္ကူ | ၃၈ မိုင်၊ ၁ ဖာလုံ | ကျပ် ၁၃၂၀၀.၀၀ သန်း | ထွန်းညီလူဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် |
| ၄။ | မိတ္ထီလာ - ကျောက်ပန်းတောင်း -ညောင်ဦး - ပုဂံ | ၉၃ မိုင်၊ ၆ ဖာလုံ | ကျပ် ၁၂၉၉၁.၂၁ သန်း (US$ ၂.၀၈ သန်း အပါအဝင်) | မြတ်နိုးသူဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် |

၂။ အထက်ပါ လမ်းအပိုင်း (၄)ခု အား (၇-၁၀-၂၀၀၉) နေ့ တွင် ကျင်းပသော ကုန်သွယ်မှု မူဝါဒကောင်စီ ၏ (၁၄/၂၀၀၉) အစည်းအဝေး၌ တင်ပြခဲ့ရာ အောက်ပါအတိုင်း ဆုံးဖြတ်ခဲ့ပါသည် - နောက်ဆက်တွဲ (က)

(က) ဆောက်လုပ်ရေး ဝန်ကြီးဌာနမှ တစ်ဆင့် တင်ပြလာသည့် အောက်ပါ လမ်းအပိုင်း (၄)ပိုင်းအား BOT စနစ်ဖြင့် ပြုပြင် ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်းအား ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုရန်။

(၁) ကျိုက်ထို-သထုံ-မော်လမြိုင်လမ်းအပိုင်း (၇၁ မိုင် ၆ ဖာလုံ)
(ရွှေသံလွင်အဝေးပြေးလမ်းမကြီး ကုမ္ပဏီ လီမိတက်)

(၂) သထုံ - မြိုင်ကလေးလမ်းအပိုင်း (၂၆ မိုင်၊ ၂ ဖာလုံ)
(ရွှေသံလွင်အဝေးပြေးလမ်းမကြီး ကုမ္ပဏီ လီမိတက်)

(၃) ချောင်းဦး- ပခုက္ကူလမ်းအပိုင်း (၃၈မိုင်၊ ၁ဖာလုံ)
(ထွန်းညီလူ ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်)

(၄) မိတ္ထီလာ-ကျောက်ပန်းတောင်း-ညောင်ဦး-ပုဂံလမ်းအပိုင်း (၈၃ မိုင်၊ ၆ ဖာလုံ)
(မြတ်နိုးသူ ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်)

(ခ) BOTစနစ်ဖြင့် လမ်းများပြုပြင်ဖောက်လုပ်မှု မပြီးသေးမီ လမ်း၊ တံတား အသုံးပြုခ ကောက်ခံရရှိငွေများကို နိုင်ငံတော်သို့ပေးသွင်းရန်နှင့်လမ်းများပြုပြင်ဖောက်လုပ်ပြီးမှ သာ ကုမ္ပဏီမှ လမ်း၊ တံတား အသုံးပြုခ ကောက်ခံရယူခွင့်ပြုရန်။

၃။ ကုန်သွယ်မှု မူဝါဒ ကောင်စီ ၏ (၁၄/၂၀၀၉) အစည်းအဝေးမှ လမ်းညွှန်ချက်အရ လမ်း၊ တံတား အသုံးပြုခ ကောက်ခံရယူ ခြင်း ကိစ္စများကို ဆောင်ရွက်နိုင်ရန် ဆောက်လုပ်ရေး ဝန်ကြီးဌာနသို့ အကြောင်းကြားပြီး ဖြစ်ပါသည်။ အစိုးရအဖွဲ့သို့တင်ပြရန် ဆောက်လုပ်ရေးဝန်ကြီးဌာနမှ တင်ပြ လာသဖြင့် အစိုးရအဖွဲ့သို့ ဆက်လက် တင်ပြခြင်းဖြစ်ပါသည်။

၄။ အထက်ပါလမ်းအပိုင်းများတွင် ကျိုက်ထို - သထုံ - မော်လမြိုင်နှင့် သထုံ - မြိုင်ကလေး လမ်းအပိုင်းရှိ တံတားများမှာ ပြည်သူ့ဆောက်လုပ်ရေး လုပ်ငန်း၏ တံတားများဖြစ်ပြီး ကုမ္ပဏီမှ လေလံစနစ်ဖြင့် ဆောင်ရွက်ခြင်း ဖြစ်ကြောင်း တင်ပြထားပါသည်။ ချောင်းဦး - ပခုက္ကူလမ်း အပိုင်း တွင် ပါဝင်သည့် (၄၈၅၇) ပေရှိ ဆင်ဖြူရှင်တံတားမှာ မြန်မာ့မီးရထားမှ တည်ဆောက်ထားသည့် တံတား ဖြစ်ပြီး မြန်မာ့မီးရထားမှ သာမန်တံတားနှုန်းဖြင့် ကောက်ခံလျှက်ရှိပါသည်။ လမ်းအပိုင်း အလိုက် တည်ရှိသည့် (၁၈၀) ပေ အထက်တံတားများမှာ အောက်ပါအတိုင်းဖြစ်ပါသည်။ အသေးစိတ် စာရင်းကို နောက်ဆက်တွဲ (ခ) ဖြင့် တင်ပြအပ်ပါသည်။

(၁၈၀) ပေ အထက် တံတားကြီးများ

| စဥ် | ကုမ္ပဏီအမည် | လမ်းအပိုင်း | ဌာနမှ တည်ဆောက်သည့် တံတား | မြန်မာ့မီးရထား မှ တည်ဆောက် သည့် တံတား |
|---|---|---|---|---|
| ၁။ | ရွှေသံလွင် | ကျိုက်ထို-သထုံ-မော်လမြိုင် | ၃ | - |
| ၂။ | ရွှေသံလွင် | သထုံ - မြိုင်ကလေး | ၁ | - |
| ၃။ | ထွန်းညီလူ | ချောင်းဦး- ပခုက္ကူ | - | ၁ |
| ၄။ | မြတ်နိုးသူ | မိတ္ထီလာ-ကျောက်ပန်းတောင်း - ညောင်ဦး - ပုဂံ | - | - |

၅။ ဆောက်လုပ်ရေးဝန်ကြီးဌာန၊ ပြည်သူ့ဆောက်လုပ်ရေး လုပ်ငန်းနှင့် ကုမ္ပဏီတို့ ချုပ်ဆိုမည့် ပဋိညာဥ်စာချုပ် (မူကြမ်း) များပါ အဓိကအချက်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

(က) လမ်းဖောက်လုပ်သည့် လုပ်ငန်းကာလ (တည်ဆောက်ရေးကာလ)မှာ (၃) နှစ် ဖြစ်ပါသည်။

(ခ) လုပ်ငန်း သက်တမ်း ကာလမှာ နှစ်(၄၀) ဖြစ်ပြီး လမ်း ဖောက်လုပ်သည့် လုပ်ငန်း ကာလ (၃)နှစ် အထိ ဆောင်ရွက် ပြီးစီးသည့်နေ့ (သို့မဟုတ်) လုပ်ငန်း အပြီးသတ် ဆောင်ရွက် ပြီးစီးမှု လက်မှတ် ထုတ်ပေးသည့်နေ့ ထိုနှစ်ရပ် အနက် စောရာ နေ့ ရက် ကာလ မှ စတင် သတ်မှတ်မည် ဖြစ်ပါသည်။

(ဂ) အဆိုပြုကုမ္ပဏီများမှ အောက်ပါလမ်းအသုံးပြုခနှုန်းများ အတိုင်း ကောက်ခံမည် ဖြစ်ပါသည်။

| စဥ် | ယာဥ်အမျိုးအစား | လမ်းအသုံးပြုခနှုန်း (တစ်မိုင်နှုန်း/ကျပ်) |
|---|---|---|
| ၁။ | (၁)တန်အောက်ယာဥ်ငယ်များ | ၄ ကျပ် ၁၃ ပြား |
| ၂။ | (၁)တန်မှ(၃)တန်အထိယာဥ်များ | ၁၂ ကျပ် ၃၉ ပြား |
| ၃။ | (၅) တန်အောက်ကားကြီးများ | ၂၀ ကျပ် ၆၅ ပြား |
| ၄။ | (၁၀)တန်အောက်ကုန်တင်ယာဥ်ကြီး များ | ၄၁ ကျပ် ၃၀ ပြား |
| ၅။ | (၂၀)တန်အထိကုန်တင်ယာဥ်ကြီး များ | ၈၂ ကျပ် ၅၉ ပြား |
| ၆။ | (၂၀)တန်အထက်တန်ပို(၁)တန် လျှင် | ၈ ကျပ် ၂၆ ပြား |

(ဃ) တံတား အသုံးပြုခများကို ပေ (၁၈၀) နှင့် အထက် ရှည်သည့် တံတားများ အတွက် နိုင်ငံတော် မှ တည်ဆောက်ထားသော တံတားများအား လေလံစနစ်ဖြင့် လည်းကောင်း၊ ကုမ္ပဏီ၏ ရန်ပုံငွေ ဖြင့် တည်ဆောက်သော တံတားများ အတွက် ပြည်သူ့ဆောက်လုပ်ရေး လုပ်ငန်း နှင့် ကုမ္ပဏီတို့ ညှိနှိုင်း သဘောတူညီသည့် နှုန်းထား ဖြင့် ကောက်ခံရမည် ဖြစ်ပါသည်။

(င) လမ်း၊ တံတား အသုံးပြုခရငွေအပေါ် ခွင့်ပြုကာလ အပိုင်းအခြား အလိုက် အောက်ပါ သတ်မှတ်ထားသည့် ရာခိုင်နှုန်းများ အတိုင်း နိုင်ငံတော်သို့ ပေးသွင်းရ မည် ဖြစ်ပါသည်။

(၁) ပထမ (၃)နှစ် အတွက် ------ကင်းလွတ်ခွင့်ကာလ

(၂) (၄) နှစ်မြောက်မှ (၁၃)နှစ်မြောက်အထိ (၁၀)နှစ် ------၅% ပေးသွင်းရန်

(၃) (၁၄) နှစ်မြောက်မှ (၂၃)နှစ်မြောက်အထိ(၁၀)နှစ် ------၁၀% ပေးသွင်းရန်

(၄) (၂၄) နှစ်မြောက်မှ (၃၃)နှစ်မြောက်အထိ (၁၀)နှစ် ------၁၅% ပေးသွင်းရန်

(၅) (၃၄) နှစ်မြောက်မှ (၄၀)နှစ်မြောက်အထိ (၇)နှစ် ------၂၀%ပေးသွင်းရန်

(စ) လုပ်ငန်း လုပ်ကိုင်ခွင့် ရသူသည် ဘဏ်အာမခံကြေးငွေ အဖြစ် စာချုပ် ချုပ်ဆို ပြီး (၃၀) ရက် အတွင်း ရင်းနှီးမြှုပ်နှံမှု ကုန်ကျ စရိတ်၏ (၁)ရာခိုင်နှုန်းနှင့် ညီမျှသော ငွေကို ထားရှိပေးရမည်။ ယင်းသက်တမ်းသည်စတင်ထုတ်ပေးသည့်နေ့မှ လုပ်ငန်း ပြီးဆုံးအောင် ဆောင်ရွက်သည့်အထိဖြစ်ပါသည်။ လုပ်ငန်း လုပ်ကိုင်ခွင့် ရသူသည် လုပ်ငန်း စတင်ရန် အကြောင်းကြားစာ ရပြီး ရက်(၃၀) အတွင်း လုပ်ငန်းစတင်ရန် ပျက်ကွက်လျှင် သော်လည်းကောင်း၊ သတ်မှတ် ကာလအတွင်း လုပ်ငန်းကို ပြီးစီး အောင် ဆောင်ရွက် ရန် အပါအဝင် စာချုပ်ပါ စည်းကမ်းချက် များကို လိုက်နာရန် ပျက်ကွက်ပါက ဘဏ်အာမခံငွေကို ပြည်သူ့ဆောက်လုပ်ရေး လုပ်ငန်းမှ သိမ်းယူ ရမည် ဖြစ်ပါသည်။ ဘဏ် အာမခံငွေကို လုပ်ငန်းအပြီးသတ် ဆောင်ရွက် ပြီးစီးမှု လက်မှတ် ထုတ်ပေးပြီး ရက်ပေါင်း (၃၀) အတွင်း လုပ်ငန်း လုပ်ကိုင်ခွင့် ရသူ သို့ ပြန်လည် ထုတ်ပေးရမည်။

(ဆ) အဆိုပြုကုမ္ပဏီများသည် လုပ်ငန်းတစ်ခုလုံးအား တစ်ဆင့်ခံလုပ်ကိုင်ခွင့် မပြုရပါ။

(ဇ) လုပ်ငန်း လုပ်ကိုင်ခွင့်ပြုသည့် ကာလနှစ်(၄၀)သို့မဟုတ်နောက်ထပ်တိုးမြှင့် ကာလ များ ပြီးဆုံးပါက အဆိုပါလမ်း နှင့် တံတားများ ၊ ဂိတ်များ နှင့် အဆောက်အဦ များ ကို ဆောက်လုပ် ပြီးစီးချိန်ကရှိနေသော ကောင်းမွန်သည့် အနေအထား အတိုင်း ပြည်သူ့ ဆောက်လုပ်ရေးလုပ်ငန်းသို့ အဖိုးစားနား တစ်စုံတစ်ရာ မရှိဘဲ လွှဲပြောင်း ပေး ရမည် ဖြစ်ပါသည်။

၆။ လမ်းအပိုင်းအလိုက် လမ်းဖောက်လုပ်သည့် လုပ်ငန်း စတင်ဆောင်ရွက်ခွင့်ပြုသည့် နေ့ရက်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

| စဉ် | ကုမ္ပဏီအမည် | လမ်းအပိုင်း | လုပ်ငန်းစတင်ဆောင်ရွက်ခွင့်ပြုသည့်နေ့ |
|---|---|---|---|
| ၁။ | ရွှေသံလွင် | ကျိုက်ထို - သထုံ - မော်လမြိုင် | ၁-၄-၂၀၀၈ |
| ၂။ | ရွှေသံလွင် | သထုံ - မြိုင်ကလေး | ၁-၄-၂၀၀၈ |
| ၃။ | ထွန်းညီလှ | ချောင်းဦး - ပခုက္ကူ | ၂၅-၉-၂၀၀၉ |
| ၄။ | မြတ်နိုးသူ | မိတ္ထီလာ - ကျောက်ပန်းတောင်း<br>ညောင်ဦး - ပုဂံ | ၁-၄-၂၀၀၈ |

၇။ အဆိုပြုလမ်းအပိုင်း(၄)ပိုင်းအား ကုမ္ပဏီ(၃)ခုတို့မှ BOT စနစ်ဖြင့် ပြုပြင် ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခ ကောက်ခံခြင်း နှင့် စပ်လျဉ်းသည့် စီးပွားရေး ဆိုင်ရာ အသေးစိတ်အချက်အလက်များကို နောက်ဆက်တွဲ (ဂ) မှ (စ) အထိ လည်းကောင်း၊ လုပ်ငန်း အဆိုပြုချက်များကို နောက်ဆက်တွဲ(ဆ)မှ (ည)အထိ လည်းကောင်း ပူးတွဲတင်ပြအပ်ပါသည်။

၈။ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၂ နှင့် ၁၃ တို့နှင့်အညီ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရပါမည်။

ဆုံးဖြတ်ရန်အချက်

၉။ ဆောက်လုပ်ရေးဝန်ကြီးဌာနမှ တစ်ဆင့်တင်ပြလာသည့် အောက်ပါလမ်းအပိုင်း (၄)ပိုင်းအား BOT စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်းအားရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့် ပြုရန် သဘောတူ - မတူ။

| | | | |
|---|---|---|---|
| (က) | ကျိုက်ထို - သထုံ- မော်လမြိုင်လမ်းအပိုင်း | (၇၁ မိုင်၊ ၆ ဖာလုံ) | ရွှေသံလွင်အဝေးပြေးလမ်းမကြီး ကုမ္ပဏီလီမိတက် |
| (ခ) | သထုံ - မြိုင်ကလေး လမ်းအပိုင်း | (၂၆ မိုင်၊ ၂ ဖာလုံ) | ရွှေသံလွင်အဝေးပြေးလမ်းမကြီး ကုမ္ပဏီလီမိတက် |
| (ဂ) | ချောင်းဦး-ပခုက္ကူလမ်း အပိုင်း | (၃၈ မိုင်၊ ၁ ဖာလုံ) | ထွန်းညီလှဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် |
| (ဃ) | မိတ္ထီလာ-ကျောက်ပန်းတောင်း- ညောင်ဦး-ပုဂံလမ်းအပိုင်း | ( ၉၃ မိုင်၊ ၆ ဖာလုံ) | မြတ်နိုးသူဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် |

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ထောက်ခံချက်

၁၀။ အစိုးရအဖွဲ့၏ ဆုံးဖြတ်ချက်ကို နာခံပါမည်။

(ဗိုလ်မှူးချုပ်မောင်မောင်သိမ်း)
ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၊
ဝန်ကြီး ၊ မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာန၊

ပြည်ထောင်စုမြန်မာနိုင်ငံတော် အစိုးရအဖွဲ့။

နောက်ဆက်တွဲ(က)



၇

ပြည်ထောင်စုမြန်မာနိုင်ငံတော်

ကုန်သွယ်မှုမူဝါဒကောင်စီ

၂၀၀၉ခုနှစ်၊ အောက်တိုဘာလ(၇)ရက်နေ့တွင် ကျင်းပသော ပြည်ထောင်စုမြန်မာနိုင်ငံတော် ကုန်သွယ်မှု မူဝါဒကောင်စီ အစည်းအဝေးအမှတ်စဉ် (၃၄/၂၀၀၉) မှတ်တမ်းကောက်နုတ်ချက်။

| အစည်းအဝေး အစီအစဉ် | စဉ် | ဆုံးဖြတ်ချက် | ဆောင်ရွက်ရန် |
|---|---|---|---|
| ၁၀-က | ၆၀၇ | (က) ဆောက်လုပ်ရေးဝန်ကြီးဌာနမှတစ်ဆင့်တင်ပြလာသည့် အောက်ပါလမ်းအပိုင်း (၄)ပိုင်းအား BOT စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခကောက်ခံခြင်း လုပ်ငန်းအား ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုရန်။<br>(၁) ကျိုက်ထို-သထုံ-မော်လမြိုင်လမ်းအပိုင်း(၇၁ မိုင်၊၆ ဖာလုံ)<br>(ရွှေသံလွင်အဝေးပြေးလမ်းမကြီး ကုမ္ပဏီ လီမိတက်)<br>(၂) သထုံ - မြိုင်ကလေး လမ်းအပိုင်း(၂၆ မိုင်၊၂ ဖာလုံ)<br>(ရွှေသံလွင်အဝေးပြေးလမ်းမကြီး ကုမ္ပဏီ လီမိတက်)<br>(၃) ချောင်းဦး-ပခုက္ကူလမ်းအပိုင်း(၃၈မိုင်၊၁ဖာလုံ)<br>(ထွန်းညီလူဆောက်လုပ်ရေးကုမ္ပဏီလီမိတက်)<br>(၄) မိတ္ထီလာ- ကျောက်ပန်းတောင်း-ညောင်ဦး-ပုဂံလမ်းအပိုင်း (၉၃ မိုင်၊၆ဖာလုံ)<br>(မြတ်နိုးသူဆောက်လုပ်ရေးကုမ္ပဏီ လီမိတက်)<br><br>(ခ) B.O.T စနစ်ဖြင့် လမ်းများ ပြုပြင်ဖောက်လုပ်မှု မပြီးသေးမီ လမ်း၊တံတားအသုံးပြုခကောက်ခံရရှိငွေများကို နိုင်ငံတော်သို့ ပေးသွင်းရန်နှင့် လမ်းများပြုပြင်ဖောက်လုပ်ပြီးမှသာ ကုမ္ပဏီမှ လမ်း၊တံတား အသုံးပြုခ ကောက်ခံရယူ ခွင့်ပြုရန်။ | မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်။<br>ဆောက်လုပ်ရေး ဝန်ကြီးဌာန။<br><br> |



WWM/TTN 8-10-2009

နောက်ဆက်တွဲ (ခ)

(၁၈၀) ပေ အထက် တံတားကြီးများ တည်ဆောက်ထားမှု

| စဥ် | လမ်းအပိုင်း (ကုမ္ပဏီအမည်) | ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်းမှ တည်ဆောက်သည့် တံတား (လေလံစနစ်ဖြင့် ဆောင်ရွက်ခြင်း) | မြန်မာ့မီးရထားမှတည်ဆောက်သည့် တံတား | မှတ်ချက် |
|---|---|---|---|---|
| ၁။ | ကျိုက်ထို - သထုံ-မော်လမြိုင် (ရွှေသံလွင်) | ဘီးလင်းချောင်း ၄၆၈' တံတား | - | - သာမန်တံတားနှုန်းဖြင့် ကောက်ခံရန်၊ |
| | | မော်လမြိုင် ၁၁၅၇၅' တံတား | | - စီမံကိန်းဝင် တံတားဖြစ်၍ စီမံကိန်းနှုန်းဖြင့် ကောက်ခံရန်၊ |
| | | သဲဖြူချောင်း ၁၈၀' တံတား | - | - ကင်းလွတ် ခွင့်ပြုရန်၊ |
| ၂။ | သထုံ - မြိုင်ကလေး (ရွှေသံလွင်) | ဒုံသမိတံတား ၆၀၀' | - | - သာမန်တံတားနှုန်းဖြင့် ကောက်ခံရန်၊ |
| ၃။ | ချောင်းဦး - ပခုက္ကူ (ထွန်းညီလူ) | - | ဆင်ဖြူရှင်တံတား ၄၉၅၇' | - မြန်မာ့ မီးရထား ၏ တံတားဖြစ်၍ အသုံးပြုခ မကောက်ခံပါ။ |
| ၄။ | မိတ္ထီလာ-ကျောက်ပန်းတောင်း-ပုဂံ - ညောင်ဦး (မြတ်နိုးသူ) | - | - | - |

နောက်ဆက်တွဲ (ဂ)

**ကျိုက်ထို-သထုံ-မော်လမြိုင်လမ်းအပိုင်း(ရွှေသံလွင်အဝေးပြေးလမ်းမကြီးကုမ္ပဏီလီမိတက်)နှင့် စပ်လျဉ်းသည့် အဓိကအချက်အလက်များ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - ရွှေသံလွင်အဝေးပြေးလမ်းမကြီး ကုမ္ပဏီလီမိတက် |
| ၂။ | လုပ်ငန်းအဆိုပြုသူအမည် | - ဦးဇော်ဝင်းထွန်း (အုပ်ချုပ်မှုဒါရိုက်တာ) |
| ၃။ | အဆိုပြုလုပ်ငန်း အမျိုးအစား | - ကျိုက်ထို- သထုံ -မော်လမြိုင် လမ်းအပိုင်းအား BOT စနစ်ဖြင့် ပြုပြင် ဖောက်လုပ်၍ လမ်းတံတား အသုံးပြုခ ကောက်ခံသည့် လုပ်ငန်း |
| ၄။ | လုပ်ငန်းတည်နေရာ (လမ်းအရှည်မိုင်) | - ကျိုက်ထို- သထုံ-မော်လမြိုင် အပိုင်း(၇၀ မိုင် ၆ဖာလုံ) (မိုင်တိုင် ၁၁၆/၇ မှ ၁၈၈/ ၅ အထိ) |
| ၅။ | လမ်းတံတားအသုံးပြုခ ကောက်ခံမည့် ဂိတ် တည်နေရာ | - ကျိုက်ထို မှ သထုံ (၃၃/၅)မိုင်အတွက် မိုင်(၁၁၇/၀) ရှိ တောင်စွန်း ကျေးရွာ ဂိတ်၊<br>- သထုံမှ မော်လမြိုင် (၃၈/၁) မိုင်အတွက် မိုင်(၁၅၂/၀) ရှိ ကွင်းကူး ကျေးရွာဂိတ် (အသွား/ အပြန် ခရီးအတွက်) |
| ၆။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု<br>- ငွေပမာဏ<br>- လမ်းလုပ်ငန်း<br>- တံတားလုပ်ငန်း<br>- အဆောက်အဦ<br>- စက်ပစ္စည်း | - ကျပ် ၁၉၇၀၀.၈၉ သန်း (US$ ၇.၉၉၅ သန်းအပါအဝင်)<br>- ၁၁၂၇.၅၂ (ချေးငွေကျပ်သန်း၃၀၀၀အပါအဝင်)<br>- ၁၄၃၅၀.၀၀<br>- ၁၃၇၅.၄၀<br>- ၈၀၀.၀၀<br>- ၄၇.၉၇ (US$ ၇.၉၉၅ သန်း)<br>- US$ (၇.၉၉၅)သန်း တန်ဖိုးရှိ စက်ပစ္စည်းများကို ပြည်ပမှ တင်သွင်းမည်ဖြစ်ရာ ကတ္တရာယို ထုတ်လုပ် သည့် စက်(၁)စုံနှင့် လမ်းသန့်ရှင်းရေး ပြုလုပ်သည့်စက်(၁)စုံ တို့ကို ကြိုတင် တင်သွင်းခွင့်ရယူထားပါသည်။ |
| ၇။ | ဝင်ငွေ (တည်ဆောက်ရေးကာလပြီး လုပ်ငန်းသက်တမ်း (၇) နှစ်မြောက် ဝင်ငွေအားကောက်နုတ် တင်ပြ ထားခြင်း ဖြစ်ပါသည်။) | - ကျပ် ၁၇၅၉.၈၇ သန်း |

| | | |
|---|---|---|
| ၈။ | အသားတင်အမြတ်<br>(၇ နှစ် မြောက်) | - ကျပ် ၂၁၂.၀၂ သန်း |
| ၉။ | အရင်းကြေကာလ | - (၂၈)နှစ် |
| ၁၀။ | အရင်းအနှီးအပေါ် အကျိုး အမြတ်<br>ပြန်ပေါ်နှုန်း (IRR) | - ၂.၃၉ % |
| ၁၁။ | နိုင်ငံတော်မှ ရရှိမည့်အကျိုးအမြတ်<br>-ဝင်ငွေခွန်<br>-လမ်းတံတားဖြတ်သန်းခရငွေ | -<br>- ကျပ် ၉၀.၈၇ သန်း<br>- ကျပ် ၈၇.၉၉ သန်း |
| ၁၂။ | လုပ်သားအင်အား | - ပြည်တွင်း ၉၇၈ ဦး<br>ပြည်ပ ၃ ဦး (လိုအပ်မှသာ ခေါ်ယူ အသုံး<br>၉၈၁ ဦး ပြုမည် ဖြစ်ပါသည်။) |
| ၁၃။ | ကတိဝန်ခံချက် | - နိုင်ငံတော်အစိုးရမှ သတ်မှတ်ပြဋ္ဌာန်းမည့် စည်းကမ်း သတ်မှတ်ချက် များကို လိုက်နာ ဆောင်ရွက်မည် ဖြစ်ကြောင်း ဝန်ခံကတိပြုထားပါသည်။ |

နောက်ဆက်တွဲ (ဃ)

**သထုံ - မြိုင်ကလေး လမ်းအပိုင်း (ရွှေသံလွင်အဝေးပြေးလမ်းမကြီး ကုမ္ပဏီလီမိတက်)**
**နှင့် စပ်လျဉ်းသည့် အဓိကအချက်အလက်များ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - ရွှေသံလွင်အဝေးပြေးလမ်းမကြီး ကုမ္ပဏီလီမိတက် |
| ၂။ | လုပ်ငန်းအဆိုပြုသူအမည် | - ဦးဇော်ဝင်းထွန်း (အုပ်ချုပ်မှုဒါရိုက်တာ) |
| ၃။ | အဆိုပြုလုပ်ငန်း အမျိုးအစား | - သထုံ-မြိုင်ကလေး လမ်းအပိုင်းအား BOT စနစ်ဖြင့် ပြုပြင် ဖောက်လုပ်၍ လမ်းတံတား အသုံးပြုခကောက်ခံသည့် လုပ်ငန်း |
| ၄။ | လုပ်ငန်းတည်နေရာ (လမ်းအရှည်မိုင်) | - သထုံ-မြိုင်ကလေး လမ်းအပိုင်း (၂၆ မိုင် ၂ ဖာလုံ)<br>မိုင်တိုင် ၀/ ၀ မှ ၂၂/ ၅ အထိ (၂၂ မိုင် ၅ ဖာလုံ)<br>သံလွင်တံတားထိပ်အထိ (၃ မိုင် ၅ ဖာလုံ) |
| ၅။ | လမ်းတံတားအသုံးပြုခ ကောက်ခံမည့် ဂိတ် တည်နေရာ | - မိုင်တိုင် (၄/ ၀) ရှိ သထုံမြို့အနီးဂိတ် (အသွား/ အပြန် ခရီးအတွက်) |
| ၆။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - ကျပ် ၆၈၂၃.၇၇ သန်း (US$ ၃.၀၇၅ သန်းအပါအဝင်) |
| | - ငွေပမာဏ | - ၉၈၃.၃၂ (ဈေးငွေကျပ်သန်း ၈၀၀ အပါအဝင်) |
| | - လမ်းလုပ်ငန်း | - ၅၂၅၀.၀၀ |
| | - တံတားလုပ်ငန်း | - ၁၇၂.၀၀ |
| | - အဆောက်အဦ | - ၄၀၀.၀၀ |
| | - စက်ပစ္စည်း | - ၁၈.၄၅ (US$ ၃.၀၇၅ သန်း)<br>- US$ (၃.၀၇၅)သန်း တန်ဖိုးရှိ စက်ပစ္စည်းများကို ပြည်ပမှ တင်သွင်းမည်ဖြစ်ပါသည်။ |
| ၇။ | ဝင်ငွေ (တည်ဆောက်ရေးကာလပြီး လုပ်ငန်းသက်တမ်း (၇) နှစ် မြောက်ဝင်ငွေအားကောက်နှုတ် တင်ပြထားခြင်း ဖြစ်ပါသည်။) | - ကျပ် ၄၂၃.၆၈ သန်း |
| ၈။ | အသားတင်အမြတ် (၇ နှစ် မြောက်) | - ကျပ် ၃၃.၅၁ သန်း |

| | | |
|---|---|---|
| ၉။ | အရင်းကြေကာလ | - (၃၃) နှစ် |
| ၁၀။ | အရင်းအနှီးအပေါ် အကျိုး အမြတ် ပြန်ပေါ်နှုန်း (IRR) | - ၁.၁၁ % |
| ၁၁။ | နိုင်ငံတော်မှ ရရှိမည့် အကျိုး အမြတ် | |
| | -ဝင်ငွေခွန် | - ကျပ် ၁၄.၃၆ သန်း |
| | -လမ်းတံတားဖြတ်သန်းခရငွေ | - ကျပ် ၂၁.၁၈ သန်း |
| ၁၂။ | လုပ်သားအင်အား | - ပြည်တွင်း ၂၄၉ ဦး<br>ပြည်ပ ၃ ဦး (လိုအပ်မှသာ ခေါ်ယူ အသုံး<br>၂၅၂ ဦး ပြုမည်ဖြစ်ပါသည်။) |
| ၁၃။ | ကတိဝန်ခံချက် | - နိုင်ငံတော်အစိုးရမှ သတ်မှတ် ပြဋ္ဌာန်းမည့် စည်းကမ်း သတ်မှတ်ချက် များကို လိုက်နာ ဆောင်ရွက်မည် ဖြစ် ကြောင်း ဝန်ခံကတိပြုထားပါသည်။ |

နောက်ဆက်တွဲ (င)

ချောင်းဦး- ပခုက္ကူ လမ်းအပိုင်း (ထွန်းညီလူ ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်) နှင့် စပ်လျဉ်းသည့် အဓိကအချက်များ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - ထွန်းညီလူ ဆောက်လုပ်ရေးကုမ္ပဏီလီမိတက် |
| ၂။ | လုပ်ငန်းအဆိုပြုသူအမည် | - ဦးညွန့်ဝေ(အုပ်ချုပ်မှုဒါရိုက်တာ) |
| ၃။ | အဆိုပြုလုပ်ငန်းအမျိုးအစား | - ချောင်းဦး- ပခုက္ကူ လမ်းအပိုင်းအား B.O.T စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်းတံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း ။<br>(လက်ရှိ M.O.T စနစ်မှ B.O.T စနစ်သို့ ပြောင်းလဲဆောင်ရွက်ခြင်းဖြစ်ပါသည်။) |
| ၄။ | လုပ်ငန်းတည်နေရာ<br>(လမ်းအရှည်မိုင်) | - ချောင်းဦး- ပခုက္ကူ (၃၈ မိုင် ၁ ဖာလုံ )<br>- ဆင်ဖြူရှင်တံတားချဉ်းကပ်လမ်း(ချောင်းဦးမှဆင်ဖြူရှင်တံတားအထိ) (စစ်ကိုင်းတိုင်းအပိုင်း)(၁၄ မိုင် ၁ ဖာလုံ)<br>- ဆင်ဖြူရှင်တံတားချဉ်းကပ်လမ်း (မြေဖြူ မှ ဆင်ဖြူရှင်တံတား အထိ)(မကွေးတိုင်းအပိုင်း)(၁၀ မိုင် ၆ ဖာလုံ)<br>- ပခုက္ကူ-ရေစကြို-ချောင်းဦးလမ်း (မကွေးတိုင်းအပိုင်း) (မိုင်တိုင်အမှတ် ၁၅/၀မှ ၂၈/၂အထိ)(၁၃ မိုင် ၂ ဖာလုံ) |
| ၅။ | လမ်းတံတား အသုံးပြုခ ကောက်ခံမည့် ဂိတ်တည်နေရာ | - အသွား ခရီး<br>မိုင်တိုင် ၁၅/၀ ရေစကြိုဂိတ်၊ ဆင်ချောင်းကျေးရွာအနီး<br>အပြန်ခရီး<br>မိုင်တိုင် ၀/၂ ချောင်းဦးဂိတ်၊ ချောင်းဦးမြို့ အထွက် |
| ၆။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု<br>- ငွေပမာဏ<br>- စက်ပစ္စည်းကိရိယာများ<br>- အဆောက်အဦ<br>- လမ်းလုပ်ငန်း<br>- တံတားလုပ်ငန်း | - ကျပ် ၁၃၂၀၀.၀၀ သန်း<br>၁၁၂၀.၃၁<br>၅၂၉.၂၀<br>၁၂၂.၂၈<br>၁၁၁၃၉.၂၅<br>၂၈၈.၉၆ |

| | | |
|---|---|---|
| ၇။ | ဝင်ငွေ (တည်ဆောက်ရေး ကာလပြီး လုပ်ငန်းသက်တမ်း(၇)နှစ်မြောက် ဝင်ငွေအား ကောက်နုတ် တင်ပြထားခြင်း ဖြစ်ပါသည်။) | ကျပ် ၆၄၄. ၁၉ သန်း |
| ၈။ | အသားတင်အမြတ် (၇နှစ်မြောက်) | ကျပ် ၈၉.၇၀ သန်း |
| ၉။ | အရင်းကြေကာလ | (၃၀) နှစ် |
| ၁၀။ | အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) | ၁.၉၂ % |
| ၁၁။ | နိုင်ငံတော်မှရရှိမည့်အကျိုးအမြတ်<br>- ဝင်ငွေခွန်<br>- လမ်းတံတားဖြတ်သန်းခ ရငွေ | <br>ကျပ် ၃၈.၄၄ သန်း<br>ကျပ် ၃၂.၂၁ သန်း |
| ၁၂။ | လုပ်သားအင်အား (ပြည်တွင်း) | (၃၆) ဦး |
| ၁၃။ | ကတိဝန်ခံချက် | - နိုင်ငံတော် အစိုးရမှ သတ်မှတ် ပြဋ္ဌာန်းမည့် စည်းကမ်းသတ်မှတ်ချက် များကို လိုက်နာ ဆောင်ရွက်မည် ဖြစ်ကြောင်း ဝန်ခံကတိပြု ထားပါသည်။ |
| ၁၄။ | အခြား | - စစ်ကိုင်းတိုင်းအေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီ၏ ထောက်ခံချက်တင်ပြထားပါသည်။ |

နောက်ဆက်တွဲ (စ)

## မိတ္ထီလာ - ကျောက်ပန်းတောင်း - ညောင်ဦး - ပုဂံ လမ်းအပိုင်း (မြတ်နိုးသူ ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်) နှင့် စပ်လျဉ်းသည့် အဓိက အချက်များ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - မြတ်နိုးသူဆောက်လုပ်ရေးကုမ္ပဏီလီမိတက် |
| ၂။ | လုပ်ငန်းအဆိုပြုသူအမည် | - ဦးကျော်စိုးလွင် (အုပ်ချုပ်မှု ဒါရိုက်တာ) |
| ၃။ | အဆိုပြုလုပ်ငန်းအမျိုးအစား | - မိတ္ထီလာ - ကျောက်ပန်းတောင်း - ညောင်ဦး - ပုဂံ လမ်းအပိုင်းအား B.O.T စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်းအသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း ။ |
| ၄။ | လုပ်ငန်းတည်နေရာ (လမ်းအရှည်မိုင်) | - မိတ္ထီလာ - ကျောက်ပန်းတောင်း - ညောင်ဦး - ပုဂံ (၉၃ မိုင် ၆ ဖာလုံ )<br>- မိတ္ထီလာ -ကျောက်ပန်းတောင်း အပိုင်း ၆၀ မိုင်၊ ၂ဖာလုံ<br>- ကျောက်ပန်းတောင်း - ညောင်ဦး- ပုဂံအပိုင်း ၃၃ မိုင်၊ ၄ ဖာလုံ |
| ၅။ | လမ်းတံတား အသုံးပြုခ ကောက်ခံမည့် ဂိတ်တည်နေရာ | - အသွား ခရီးအတွက်<br>- မိုင်တိုင် ၅/၀ မိတ္ထီလာဂိတ်၊ ဆည်ကုန်းရွာအနီး<br>- မိုင်တိုင် ၅၅/၀ ကျောက်ပန်းတောင်းဂိတ်၊ အင်းတောရွာအနီး<br>အပြန်ခရီးအတွက်<br>- မိုင်တိုင် ၂၃/၀ ညောင်ဦးဂိတ်၊ တောင်ဘရွာ အနီး -<br>- မိုင်တိုင် ၅၅/၀ ကျောက်ပန်းတောင်းဂိတ်၊ အင်းတောရွာအနီး |
| ၆။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု<br>- ငွေပမာဏ<br>- စက်ပစ္စည်းကိရိယာများ<br>- အဆောက်အဦ<br>- လမ်းလုပ်ငန်း<br>- တံတားလုပ်ငန်း | - ကျပ် ၁၂၉၉၁.၂၁ သန်း ( US$ ၂.၀၈ သန်းအပါအဝင်)<br>၄၈၅.၂၅<br>၁၂.၄၈ (US$ ၂.၀၈ သန်း)<br>၈၈၇.၅၂<br>၁၀၆၂၅.၄၀<br>၉၈၀.၅၆ |

| | | |
|---|---|---|
| | | - US$ (၂.၀၈)သန်း တန်ဖိုးရှိ စက်ပစ္စည်းများကို ပြည်ပ မှ တင်သွင်းမည် ဖြစ်ရာ (Dozer, Road Roller , Soil Compactor, Dump Truck, Cargo Truck , Crane) တို့ကို ကြိုတင် တင်သွင်းခွင့် ရယူထားပါသည်။ |
| ၇။ | ဝင်ငွေ (တည်ဆောက်ရေး ကာလပြီး လုပ်ငန်းသက်တမ်း(၇)နှစ်မြောက် ဝင်ငွေအား ကောက်နုတ် တင်ပြထားခြင်း ဖြစ်ပါသည်။) | ကျပ် ၁၀၇၂.၄၉ သန်း |
| ၈။ | အသားတင်အမြတ် (၇နှစ်မြောက်) | ကျပ် ၁၉၃.၇၄ သန်း |
| ၉။ | အရင်းကြေကာလ | (၂၄) နှစ် နှင့် (၅) လ |
| ၁၀။ | အရင်းအနှီးအပေါ်အကျိုး အမြတ် ပြန်ပေါ်နှုန်း (IRR) | ၃.၀၂ % |
| ၁၁။ | နိုင်ငံတော်မှရရှိမည့်အကျိုး အမြတ်<br>- ဝင်ငွေခွန်<br>- လမ်းတံတားဖြတ်သန်းခ ရငွေ | <br><br>ကျပ် ၈၃.၀၃ သန်း<br>ကျပ် ၅၃.၆၂ သန်း |
| ၁၂။ | လုပ်သားအင်အား (ပြည်တွင်း) | (၆၂) ဦး |
| ၁၃။ | ကတိဝန်ခံချက် | - နိုင်ငံတော်အစိုးရမှ သတ်မှတ် ပြဋ္ဌာန်းမည့် စည်းကမ်း သတ်မှတ်ချက် များကို လိုက်နာ ဆောင်ရွက်မည် ဖြစ်ကြောင်း ဝန်ခံကတိပြု ထားပါသည်။ |

ပြည်ထောင်စုမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**
ရုံးအမှတ်(၃၂)၊ နေပြည်တော်

Fax -95-67-406333 ဖုံး-၀၆၇-၄၀၆၃၃၄၊၄၀၆၀၇၅

စာအမှတ်၊ ရက- ၆(က)/မ- ၇၀၆/၂၀၀၉ (၁၈၉၃ )
ရက်စွဲ၊ ၂၀၀၉ ခုနှစ်၊ အောက်တိုဘာလ ၁၄ ရက်။

အကြောင်းအရာ။ ။ BOT စနစ်ဖြင့် လမ်းများပြုပြင်ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်းကို ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ရန် အတွက် အဆိုပြုချက် (၄)ခု တင်ပြခြင်းကိစ္စ။

ရည် ညွှန်း ချက် ။ ။ ဆောက်လုပ်ရေးဝန်ကြီးဌာန ၏ -

(၁) (၆-၈-၂၀၀၉) ရက်စွဲပါစာအမှတ်၊ ၁/ ခွဲ- ၂/ ထွေ / ၂၀၀၉ (ကုမ္ပဏီ) (စီ ၅၄၅၈) (ကျိုက်ထို - သထုံ - မော်လမြိုင်) (သထုံ - မြိုင်ကလေး) (ရွှေသံလွင်)

(၂) (၂၅-၉-၂၀၀၉)ရက်စွဲပါစာအမှတ်၊ ၁/ ခွဲ- ၂/ ထွေ/ ၂၀၀၉ (ကုမ္ပဏီ) (စီ ၆၈၀၅) (ချောင်းဦး - ပခုက္ကူ) (ထွန်းညီုလူ)

(၃) (၂၈-၉-၂၀၀၉)ရက်စွဲပါစာအမှတ်၊ ၁/ ခွဲ- ၂/ ထွေ/ ၂၀၀၉ (ကုမ္ပဏီ) (စီ ၆၈၅၃) (မိတ္ထီလာ - ကျောက်ပန်းတောင်း- ညောင်ဦး - ပုဂံ) (မြတ်နိုးသူ)

၁။ အထက်အကြောင်းအရာပါ ကိစ္စနှင့် စပ်လျဉ်း၍ ဆောက်လုပ်ရေး ဝန်ကြီးဌာနမှ ရည်ညွှန်းချက်ပါစာများဖြင့် တင်ပြခြင်းကို (၇-၁၀-၂၀၀၉) နေ့တွင် ကျင်းပသော ကုန်သွယ်မှုမူဝါဒ ကောင်စီ၏ (၃၄/ ၂၀၀၉) အစည်းအဝေး၌ တင်ပြခဲ့ပါသည်။

၂။ ယင်းအစည်းအဝေးမှ အောက်ပါအတိုင်း ဆုံးဖြတ်ခဲ့ပါသည်-

(က)ဆောက်လုပ်ရေးဝန်ကြီးဌာနမှတစ်ဆင့် တင်ပြလာသည့် အောက်ပါ လမ်းအပိုင်း (၄)ပိုင်းအား BOT စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်းအား ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုရန်။

(၁) ကျိုက်ထို - သထုံ - မော်လမြိုင်လမ်းအပိုင်း (၇၁ မိုင် ၆ ဖာလုံ)
(ရွှေသံလွင်အဝေးပြေးလမ်းမကြီး ကုမ္ပဏီလီမိတက်)

(၂) သထုံ - မြိုင်ကလေး လမ်းအပိုင်း (၂၆ မိုင် ၂ ဖာလုံ)
(ရွှေသံလွင်အဝေးပြေးလမ်းမကြီး ကုမ္ပဏီ လီမိတက်)

(၃) ချောင်းဦး - ပခုက္ကူ လမ်းအပိုင်း (၃၈ မိုင် ၁ ဖာလုံ)
(ထွန်းညီုလူဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်)

(၄) မိတ္ထီလာ - ကျောက်ပန်းတောင်း - ညောင်ဦး- ပုဂံလမ်းအပိုင်း
(၉၃ မိုင် ၆ ဖာလုံ)
(မြိတ်နိုးသူ ဆောက်လုပ်ရေးကုမ္ပဏီလီမိတက်)

(ခ) BOTစနစ်ဖြင့် လမ်းများ ပြုပြင်ဖောက်လုပ်မှုမပြီးသေးမီ လမ်း၊ တံတား အသုံးပြုခ ကောက်ခံရရှိငွေများကို နိုင်ငံတော်သို့ပေးသွင်းရန်နှင့်လမ်းများပြုပြင်ဖောက်လုပ်ပြီးမှသာ ကုမ္ပဏီမှ လမ်း၊ တံတား အသုံးပြုခ ကောက်ခံရယူခွင့်ပြုရန်။

၃။ အထက်ပါ အစည်းအဝေးဆုံးဖြတ်ချက်ကို သိရှိနိုင်ပါရန်နှင့် အစိုးရအဖွဲ့သို့ ဆက်လက်တင်ပြ နိုင်ရန် အတွက် အဆိုပြုလွှာ (၁၂)စုံကို Adobe Acrobat Reader (Pdf) File ဖြင့် ထည့်သွင်း ထားသော CD Copy နှင့်အတူ ဤကော်မရှင်သို့ ပေးပို့ပါရန် အကြောင်းကြားအပ်ပါသည်။

ဥက္ကဋ္ဌ (ကိုယ်စား)
(ဗိုလ်မှူးကြီး သူရိန်ဇော်၊ အတွင်းရေးမှူး)

ဝန်ကြီးရုံး၊
ဆောက်လုပ်ရေးဝန်ကြီးဌာန။

မိတ္တူ-
(၁) ဦးဆောင်ညွှန်ကြားရေးမှူး၊
ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း။
(၂) ရွှေသံလွင်အဝေးပြေးလမ်းမကြီးကုမ္ပဏီလီမိတက်။
(၃) ထွန်းညီလူဆောက်လုပ်ရေးကုမ္ပဏီလီမိတက်။
(၄) မြိတ်နိုးသူဆောက်လုပ်ရေးကုမ္ပဏီလီမိတက်။
(၅) ရုံးလက်ခံ/ မျှောစာတွဲ။

P-7 ၅/၅/၁၂

လျှို့ဝှက်

# ပြည်ထောင်စုမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

စာအမှတ်၊ ရက- ၆(ခ)/မ- လမ်း/ ၂၀၁၉(၁၅၆၀၉-၈)၊

ရက်စွဲ၊ ၂၀၁၉ ခုနှစ်၊ အောက်တိုဘာလ ၁ ရက်။

## ကုန်သွယ်မှု မူဝါဒ ကောင်စီသို့ တင်ပြသည့်

## အမှာစာ

အကြောင်းအရာ။ ။ BOT စနစ်ဖြင့် လမ်းများ ပြုပြင်ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း ကို ရင်းနှီးမြှုပ်နှံမှု ဥပဒေ နှင့် အညီ ဆောင်ရွက်ရန် အတွက် အဆိုပြုချက်(၄)ခု တင်ပြခြင်းကိစ္စ။

၁။ BOT စနစ်ဖြင့်လမ်းများ ပြုပြင်ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ကော်မရှင် ခွင့်ပြုမိန့် ရရှိရေး အတွက် ဆောက်လုပ်ရေး ဝန်ကြီးဌာနမှ တစ်ဆင့် အဆိုပြုချက်များ တင်ပြလျှက်ရှိပါသည်။

၂။ ယခုအခါ အောက်ပါ လမ်းအပိုင်း(၄)ပိုင်းတို့အား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင် အစည်းအဝေးများတွင် တင်ပြခဲ့ပြီး ကုန်သွယ်မှုမူဝါဒကောင်စီ သို့ ဆက်လက် တင်ပြပေးပါရန် ဆောက်လုပ်ရေးဝန်ကြီးဌာနမှ တင်ပြလာခြင်း ဖြစ်ပါ သည်။

| စဉ် | လုပ်ငန်းတည်နေရာ | လမ်းအရှည် မိုင် | စုစုပေါင်း ရင်းနှီးမြှုပ်နှံမှု | ဆောင်ရွက်သည့် ကုမ္ပဏီ |
|---|---|---|---|---|
| ၁။ | ကျိုက်ထို-သထုံ-မော်လမြိုင် | ၇၁ မိုင်၊ ၆ ဖာလုံ | ကျပ် ၁၉၇၀၀.၈၉ သန်း (US$ ၇.၉၉၅ သန်း အပါအဝင်) | ရွှေသံလွင်အဝေးပြေး လမ်းမကြီး ကုမ္ပဏီ လီမိတက် |
| ၂။ | သထုံ - မြိုင်ကလေး | ၂၆ မိုင်၊ ၂ ဖာလုံ | ကျပ် ၆၈၂၃.၇၇ သန်း (US$ ၃.၀၇၅ သန်း အပါအဝင်) | ရွှေသံလွင်အဝေးပြေး လမ်းမကြီး ကုမ္ပဏီ လီမိတက် |
| ၃။ | ချောင်းဦး- ပုခုက္ကူ | ၃၈ မိုင်၊ ၁ ဖာလုံ | ကျပ် ၁၃၂၀၀.၀၀ သန်း | ထွန်းညီလူဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် |

လျှို့ဝှက်

| စဉ် | လုပ်ငန်းတည်နေရာ | လမ်းအရှည် မိုင် | စုစုပေါင်း ရင်းနှီးမြှုပ်နှံမှု | ဆောင်ရွက်သည့် ကုမ္ပဏီ |
|---|---|---|---|---|
| ၄။ | မိတ္ထီလာ - ကျောက်ပန်းတောင်း -ညောင်ဦး - ပုဂံ | ၉၃ မိုင်၊ ၆ ဖာလုံ | ကျပ် ၁၂၉၉၁.၂၁ သန်း (US$ ၂.၀၈ သန်း အပါအဝင်) | မြတ်နိုးသူ ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် |

၃။ ယခုတင်ပြသည့် အဆိုပြုလမ်းအပိုင်း (၄)ပိုင်းတွင် ကုန်သွယ်မှု မူဝါဒကောင်စီ ၏ (၂၄/၂၀၀၉)(၂၉-၇-၂၀၀၉) အစည်းအဝေး ဆုံးဖြတ်ချက်နှင့်အညီ တံတားခကောက်ခံသည့်ကိစ္စနှင့် လုပ်ငန်းတစ်ဆင့်ခံ လုပ်ကိုင်ခြင်း ကိစ္စများကို ပဋိညာဥ်စာချုပ် (မူကြမ်း) များတွင် ပြင်ဆင်တင်ပြထားပါသည်။ ကျိုက်ထို - သထုံ - မော်လမြိုင်နှင့် သထုံ - မြိုင်ကလေးလမ်းအပိုင်းရှိ တံတားများမှာ ပြည်သူ့ဆောက်လုပ်ရေး လုပ်ငန်း၏ တံတားများဖြစ်ပြီး ကုမ္ပဏီမှ လေလံစနစ်ဖြင့် ဆောင်ရွက်ခြင်း ဖြစ်ကြောင်း တင်ပြထားပါသည်။ ချောင်းဦး - ပခုက္ကူလမ်းအပိုင်းတွင် ပါဝင်သည့် (၄၉၅၇) ပေရှိ ဆင်ဖြူရှင်တံတားမှာ မြန်မာ့မီးရထားမှ တည်ဆောက်ထားသည့် တံတားဖြစ်ပါသည်။ လမ်းအပိုင်း အလိုက်တည်ရှိသည့် (၁၈၀)ပေအထက်တံတားများမှာ အောက်ပါအတိုင်းဖြစ်ပါသည်။ အသေးစိတ် စာရင်းကို နောက်ဆက်တွဲ (၁) ဖြင့် တင်ပြအပ်ပါသည်။

**(၁၈၀) ပေ အထက် တံတားကြီးများ**

| စဉ် | ကုမ္ပဏီ အမည် | လမ်းအပိုင်း | ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်းမှ တည်ဆောက်သည့် တံတား (လေလံ စနစ်ဖြင့် ဆောင်ရွက်ခြင်း) | မြန်မာ့မီးရထားမှ တည်ဆောက်သည့် တံတား |
|---|---|---|---|---|
| ၁။ | ရွှေသံလွင် | ကျိုက်ထို-သထုံ-မော်လမြိုင် | ၃ | - |
| ၂။ | ရွှေသံလွင် | သထုံ - မြိုင်ကလေး | ၁ | - |
| ၃။ | ထွန်းညီလူ | ချောင်းဦး- ပခုက္ကူ | - | ၁ |
| ၄။ | မြတ်နိုးသူ | မိတ္ထီလာ-ကျောက်ပန်းတောင်း-ညောင်ဦး - ပုဂံ | - | - |

၄။ ဆောက်လုပ်ရေးဝန်ကြီးဌာန၊ ပြည်သူ့ဆောက်လုပ်ရေး လုပ်ငန်းနှင့် ကုမ္ပဏီတို့ ချုပ်ဆိုမည့် ပဋိညာဥ်စာချုပ် (မူကြမ်း) များပါ အဓိကအချက်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

(က) လမ်းဖောက်လုပ်သည့် လုပ်ငန်းကာလ (တည်ဆောက်ရေးကာလ)မှာ (၃) နှစ် ဖြစ်ပါသည်။

(ခ) လုပ်ငန်း သက်တမ်း ကာလမှာ နှစ်(၄၀) ဖြစ်ပြီး လမ်း ဖောက်လုပ်သည့် လုပ်ငန်း ကာလ (၃)နှစ် အထိ ဆောင်ရွက် ပြီးစီးသည့်နေ့ (သို့မဟုတ်) လုပ်ငန်း အပြီးသတ် ဆောင်ရွက် ပြီးစီးမှု လက်မှတ် ထုတ်ပေးသည့်နေ့ ထိုနှစ်ရပ် အနက် စောရာ နေ့ ရက် ကာလ မှ စတင် သတ်မှတ်မည် ဖြစ်ပါသည်။

(ဂ) အဆိုပြုကုမ္ပဏီများမှ အောက်ပါလမ်းအသုံးပြုခနှုန်းများ အတိုင်း ကောက်ခံမည် ဖြစ်ပါသည်။

| စဉ် | ယာဉ်အမျိုးအစား | လမ်းအသုံးပြုခနှုန်း (တစ်မိုင်နှုန်း/ကျပ်) |
|---|---|---|
| ၁။ | (၁)တန်အောက်ယာဉ်ငယ်များ | ၄ ကျပ် ၁၃ ပြား |
| ၂။ | (၁)တန်မှ(၃)တန်အထိယာဉ်များ | ၁၂ ကျပ် ၃၉ ပြား |
| ၃။ | (၅) တန်အောက်ကားကြီးများ | ၂၀ ကျပ် ၆၅ ပြား |
| ၄။ | (၁၀)တန်အောက်ကုန်တင်ယာဉ်ကြီး များ | ၄၁ ကျပ် ၃၀ ပြား |
| ၅။ | (၂၀)တန်အထိကုန်တင်ယာဉ်ကြီး များ | ၈၂ ကျပ် ၅၉ ပြား |
| ၆။ | (၂၀)တန်အထက်တန်ပို(၁)တန် လျှင် | ၈ ကျပ် ၂၆ ပြား |

(ဃ) တံတား အသုံးပြုခများကို ပေ (၁၈၀) နှင့် အထက် ရှည်သည့် တံတားများ အတွက် နိုင်ငံတော် မှ တည်ဆောက်ထားသော တံတားများအား လေလံစနစ်ဖြင့် လည်းကောင်း၊ ကုမ္ပဏီ၏ ရန်ပုံငွေ ဖြင့် တည်ဆောက်သော တံတားများ အတွက် ပြည်သူ့ဆောက်လုပ်ရေး လုပ်ငန်း နှင့် ကုမ္ပဏီတို့ ညှိနှိုင်း သဘောတူညီသည့် နှုန်းထား ဖြင့် ကောက်ခံရမည် ဖြစ်ပါသည်။

(င) လမ်း၊ တံတား အသုံးပြုခရငွေအပေါ် ခွင့်ပြုကာလ အပိုင်းအခြား အလိုက် အောက်ပါ သတ်မှတ်ထားသည့် ရာခိုင်နှုန်းများ အတိုင်း နိုင်ငံတော်သို့ ပေးသွင်းရ မည် ဖြစ်ပါသည်။

(၁) ပထမ (၃)နှစ် အတွက် ------ကင်းလွတ်ခွင့်ကာလ

(၂) (၄) နှစ်မြောက်မှ (၁၃)နှစ်မြောက်အထိ (၁၀)နှစ် ------၅% ပေးသွင်းရန်

(၃) (၁၄) နှစ်မြောက်မှ (၂၃)နှစ်မြောက်အထိ(၁၀)နှစ် ------၁၀% ပေးသွင်းရန်

(၄) (၂၄) နှစ်မြောက်မှ (၃၃)နှစ်မြောက်အထိ (၁၀)နှစ် ------၁၅% ပေးသွင်းရန်

(၅) (၃၄) နှစ်မြောက်မှ (၄၀)နှစ်မြောက်အထိ (၇)နှစ် ------၂၀%ပေးသွင်းရန်

(စ) အဆိုပြုကုမ္ပဏီများသည် လုပ်ငန်းတစ်ခုလုံးအား တစ်ဆင့်ခံလုပ်ကိုင်ခွင့် မပြုရပါ။

(ဆ) လုပ်ငန်း လုပ်ကိုင်ခွင့်ပြုသည့် ကာလနှစ်(၄၀)သို့မဟုတ်နောက်ထပ်တိုးမြှင့် ကာလများ ပြီးဆုံးပါက အဆိုပါလမ်း နှင့် တံတားများ ၊ ဂိတ်များ နှင့် အဆောက်အဦ များကို ဆောက်လုပ် ပြီးစီးချိန်ကရှိနေသော ကောင်းမွန်သည့် အနေအထား အတိုင်း ပြည်သူ့ ဆောက်လုပ်ရေးလုပ်ငန်းသို့ အဖိုးစားနား တစ်စုံတစ်ရာ မရှိဘဲ လွှဲပြောင်းပေး ရမည် ဖြစ်ပါသည်။

၅။ လမ်းအပိုင်းအလိုက် လမ်းဖောက်လုပ်သည့် လုပ်ငန်း စတင်ဆောင်ရွက်ခွင့်ပြုသည့် နေ့ရက်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

| စဉ် | ကုမ္ပဏီအမည် | လမ်းအပိုင်း | လုပ်ငန်းစတင်ဆောင်ရွက်ခွင့်ပြုသည့်နေ့ |
|---|---|---|---|
| ၁။ | ရွှေသံလွင် | ကျိုက်ထို - သထုံ - မော်လမြိုင် | ၁-၄-၂၀၀၈ |
| ၂။ | ရွှေသံလွင် | သထုံ - မြိုင်ကလေး | ၁-၄-၂၀၀၈ |
| ၃။ | ထွန်းညိုလူ | ချောင်းဦး - ပခုက္ကူ | ၂၅-၉-၂၀၀၉ |
| ၄။ | မြတ်နိုးသူ | မိတ္ထီလာ - ကျောက်ပန်းတောင်း- ညောင်ဦး - ပုဂံ | ၁-၄-၂၀၀၈ |

၆။ ဆောက်လုပ်ရေး ဝန်ကြီးဌာနမှ တစ်ဆင့် တင်ပြလာသည့် လမ်းအပိုင်း (၄)ပိုင်းအား ကုမ္ပဏီ(၄)ခုတို့မှ BOT စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခ ကောက်ခံခြင်းနှင့် စပ်လျဉ်းသည့် စီးပွားရေးဆိုင်ရာ အသေးစိတ်အချက်အလက်များနှင့် လုပ်ငန်း အဆိုပြုလွှာများကို ပူးတွဲ တင်ပြအပ် ပါသည်။

၇။ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၂ နှင့် ၁၃ တို့နှင့်အညီ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရပါမည်။

ဆုံးဖြတ်ရန်အချက်

၈။ ဆောက်လုပ်ရေး ဝန်ကြီးဌာနမှ တစ်ဆင့် တင်ပြလာသည့် အောက်ပါ လမ်းအပိုင်း (၄)ပိုင်းအား BOT စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်းအား ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့် ပြုရန် သဘောတူ - မတူ။

(က) ကျိုက်ထို - သထုံ-မော်လမြိုင်လမ်းအပိုင်း (၇၁ မိုင်၊ ၆ ဖာလုံ)
(ရွှေသံလွင်အဝေးပြေးလမ်းမကြီး ကုမ္ပဏီ လီမိတက်)

(ခ) သထုံ - မြိုင်ကလေး လမ်းအပိုင်း (၂၆ မိုင်၊ ၂ ဖာလုံ)
(ရွှေသံလွင်အဝေးပြေးလမ်းမကြီး ကုမ္ပဏီ လီမိတက်)

(ဂ) ချောင်းဦး- ပခုက္ကူလမ်းအပိုင်း (၃၈မိုင်၊ ၁ဖာလုံ)
(ထွန်းညီလူဆောက်လုပ်ရေးကုမ္ပဏီလီမိတက်)

(ဃ) မိတ္ထီလာ- ကျောက်ပန်းတောင်း-ညောင်ဦး-ပုဂံလမ်းအပိုင်း (၉၃ မိုင်၊၆ ဖာလုံ)
(မြတ်နိုးသူဆောက်လုပ်ရေးကုမ္ပဏီ လီမိတက်)

<u>မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ထောက်ခံချက်</u>

၉။ ကုန်သွယ်မှု မူဝါဒ ကောင်စီ၏ ဆုံးဖြတ်ချက်ကို နာခံပါမည်။

(ဗိုလ်မှူးချုပ်မောင်မောင်သိမ်း)
ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၊
ဝန်ကြီး ၊ မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာန၊

<u>ကုန်သွယ်မှု မူဝါဒ ကောင်စီ</u>

နောက်ဆက်တွဲ (၁)

## (၁၈၀) ပေ အထက် တံတားကြီးများ တည်ဆောက်ထားမှု

| စဥ် | လမ်းအပိုင်း (ကုမ္ပဏီအမည်) | ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်းမှ တည်ဆောက်သည့်တံတား (လေလံစနစ်ဖြင့် ဆောင်ရွက်ခြင်း) | မြန်မာ့မီးရထားမှတည်ဆောက်သည့် တံတား | မှတ်ချက် |
|---|---|---|---|---|
| ၁။ | ကျိုက်ထို - သထုံ-မော်လမြိုင် (ရွှေသံလွင်) | ဘီးလင်းချောင်း ၄၆၈' တံတား<br>မော်လမြိုင် ၁၁၅၇၅' တံတား | - | - သာမန်တံတားနှုန်းဖြင့် ကောက်ခံရန်၊<br>- စီမံကိန်းဝင် တံတားဖြစ်၍ စီမံကိန်းနှုန်းဖြင့် ကောက်ခံရန်၊ |
| | | သံဖြူချောင်း ၁၈၀' တံတား | - | - ကင်းလွတ် ခွင့်ပြုရန်၊ |
| ၂။ | သထုံ - မြိုင်ကလေး (ရွှေသံလွင်) | ဒုံသမိတံတား ၆၀၀' | - | - သာမန်တံတားနှုန်းဖြင့် ကောက်ခံရန်၊ |
| ၃။ | ချောင်းဦး - ပခုက္ကူ (ထွန်းညီလူ) | - | ဆင်ဖြူရှင် တံတား ၄၉၅၃' | - မြန်မာ့ မီးရထား ၏ တံတားဖြစ်၍ အသုံးပြုခ မကောက်ခံပါ။ |
| ၄။ | မိတ္ထီလာ-ကျောက်ပန်းတောင်း-ပုဂံ - ညောင်ဦး (မြတ်နိုးသူ) | - | - | - |

## ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း ၏ တံတား အသုံးပြုခနှုန်းထား
## (သာမန်တံတား)

| | | |
|---|---|---|
| (က) | ဆိုင်ကယ်၊ မြင်းလှည်း၊ ထော်လာဂျီ | ၅ ကျပ် |
| (ခ) | (၂)တန်အောက်ယာဉ်၊ အခြားယာဉ်များ၊ ကိုယ်ပိုင်ယာဉ်ငယ်များ | ၃၀ ကျပ် |
| (ဂ) | ဟိုင်းလတ်ခရီးသည်တင်ယာဉ် | ၄၀ ကျပ် |
| (ဃ) | (၂)တန်အောက် ခရီးသည်တင်ယာဉ် | ၄၀ ကျပ် |
| (င) | (၂)တန်မှ (၅)တန်အောက်ယာဉ် | ၆၀ ကျပ် |
| (စ) | (၅)တန်နှင့် အထက် ခရီးသည်တင်ယာဉ် | ၁၀၀ ကျပ် |
| (ဆ) | (၅)တန်နှင့်အထက် ယာဉ်ကြီး | ၁၅၀ ကျပ် |
| (ဇ) | ထရပ်ကား (၂၀)တန်အထိ | ၁၅၀ ကျပ် |

## ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း ၏ တံတား အသုံးပြုခနှုန်းထား
## (စီမံကိန်းဝင်တံတား)

| | | |
|---|---|---|
| (က) | စက်ဘီး | ၅ ကျပ် |
| (ခ) | ဆိုင်ကယ်၊ မြင်းလှည်း၊ | ၃၀ ကျပ် |
| (ဂ) | ထော်လာဂျီ (ခရီးသည်/ကုန်မပါ) | ၅၀ ကျပ် |
| (ဃ) | (၂)တန်အောက်ယာဉ်၊ အခြားယာဉ်များ၊ ကိုယ်ပိုင်ယာဉ်ငယ်များ | ၇၅ ကျပ် |
| (င) | ဟိုင်းလတ်ခရီးသည်တင်ယာဉ် | ၂၀၀ ကျပ် |
| (စ) | (၂)တန်မှ (၅)တန်အောက်ယာဉ် | ၂၅၀ ကျပ် |
| (ဆ) | (၅)တန်ရှိ ခရီးသည်တင်ယာဉ် | ၄၅၀ ကျပ် |
| (ဇ) | (၅)တန်မှ (၁၀)တန်အောက် ကုန်တင်ယာဉ်ကြီး | ၇၀၀ ကျပ် |
| (ဈ) | (၁၀)တန်မှ(၂၀)တန်အထိ ကုန်တင်ယာဉ်ကြီး | ၁၀၀၀ ကျပ် |

မှတ်ချက်။ ။ (ကုန်+ ယာဉ်) ၂၀ တန်ထက်ကျော်သော ယာဉ်များအတွက် တန်ပိုကြေးအဖြစ် (၁)တန်လျှင် ၃၀၀ ကျပ် နှုန်း၊

ခရီးသည်(သို့မဟုတ်) ကုန်တင်ဆောင်လာသည့် ထော်လာဂျီယာဉ် ၂၀၀ ကျပ်နှုန်း

